

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်။

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၉. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၀၇၆ / ၂၀၁၄ (၂၄၆-ခ)

၁။ Myanmar Luxury Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိ မြေဧရိယာ ၀. ၂၄၅ ဧက (၉၉၁. ၄၈၀၇ စတုရန်းမီတာ)တွင် CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၈၆)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)၊ မြေဧရိယာ ၀. ၂၄၅ ဧက (၉၉၁. ၄၈၀၇ စတုရန်းမီတာ)ရှိ မြေနှင့်အဆောက်အဦကို တစ်လလျှင် ကျပ်သိန်း(၂၀)နှုန်းဖြင့် (၅)နှစ်ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၉. ၁၀. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၈)အရ Myanmar Luxury Group Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Luxury Group Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ



နောက်ဆက်တွဲ (၁)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT - 1881
29.9.14

စာအမှတ် ၂/၂၂၀(၁)(၆)/( ၇၄၁၄ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊စက်တင်ဘာလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

4961
30/9

အကြောင်းအရာ။ သဘောထားမှတ်ချက်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၉-၂၀၁၄ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၀၇၆/၂၀၁၄(၂၄၆-၁)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ Myanmar Luxury Group Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိ မြေဧရိယာ (၀.၂၄၅)ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ)တွင် CMP စနစ် ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာ၊ ရင်းနှီးမြှုပ်နှံမှုကာလ အနည်းဆုံး(၁၀)နှစ် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ၊ အထည်ချုပ်စက်ရုံပုံစံ ၊ မြေငှားစာချုပ်၊ အသုံးပြုမည့် စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းစာရင်း ၊ ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များ၊ စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေး နှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ၊ မီးဘေးကာကွယ်ရေးအစီအစဉ်များ ၊ အဆိုပြုလုပ်ငန်းမှ ရရှိလာသော အမြတ်ငွေ၏ (၂%) ကို ( Corporate Social Responsibility - CSR) ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲမည်ဖြစ်ကြောင်း ၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ် အနေဖြင့် လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး၊ ပတ်ဝန်းကျင်ဆူညံမှုနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး၊ ရေစီးရေလာပိတ်ဆို့မှု၊ လမ်းပိတ်ဆို့မှု နှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိသော်လည်း စွန့်ပစ်ပစ္စည်း ပြန်လည်အသုံးပြုမည့် နည်းစနစ်များ ၊ ထုတ်လုပ်မှုနည်းစဉ် နှင့် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည့် အသေးစိတ် အစီအစဉ်များ ရေးဆွဲဆောင်ရွက်ရန် လိုအပ်သည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းတွင် အသုံးပြုမည့် Polybag ၊ fabric စသည့် ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့်

ဖြစ်ပေါ်နိုင်ခြင်း ၊ ပိတ်စဖြတ်ခြင်း ၊ ပုံစံညှပ်ခြင်း၊ အထည်ချုပ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Luxury Group Co., Ltd မှ Jacket, Bag နှင့် အဝတ်အထည် မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြား အပ်ပါသည်-

(က) လုပ်ငန်းတွင် အဓိကအသုံးပြုမည့် ကုန်ကြမ်းစွန့်ပစ်ပစ္စည်းများအား ပြန်လည် အသုံးပြုမည့် အစီအစဉ်၊ စနစ်တကျစွန့်ပစ်မည့် နည်းလမ်းများ ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်များ ရေးဆွဲအကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ခ) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်၌ စီမံကိန်းဆိုင်ရာ အချက် အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြု ဆောင်ရွက်ရန်၊

(ဂ) စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲ မည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်

☎ -၀၁-၆၅၈၁၂၈

🖷 -၀၁-၆၅၈၁၃၆


စာအမှတ်၊ရက- ၃/မ-၁၀၇၆/၂၀၁၄ ( ၄၀၃ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၅ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကိစ္စ**

ရည်ညွှန်းချက် ။
(၁) Myanmar Luxury Group Co., Ltd.၏ (၂၅-၈-၂၀၁၄) ရက်စွဲပါစာ
(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၂-၉-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ရက- ၃/ မ-၁၀၇၆ /၂၀၁၄ (၂၄၆-၀)
(၃) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ (၂၆-၉-၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၆)(၇၄၁၄/၂၀၁၄)

၁။ Myanmar Luxury Group Co., Ltd.သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် (၁၆)ရှိ မြေဧရိယာ ၀.၂၄၅ ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ) တွင် CMPစနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်လှိုင်မြင့် (အဘ-ဦးဉာဏ်မြင့်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ရည်ညွှန်းချက် (၂)ပါ စာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါ စာဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်-

(က) လုပ်ငန်းတွင် အဓိက အသုံးပြုမည့် ကုန်ကြမ်းစွန့်ပစ်ပစ္စည်းများအား ပြန်လည်အသုံးပြုမည့် အစီအစဉ်၊ စနစ်တကျစွန့်ပစ်မည့် နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်များရေးဆွဲ အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်၌ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ အသုံးပြု ဆောင်ရွက်ရန်၊

(ဂ) စွန့်ပစ် ပစ္စည်း/စွန့်ပစ် အရည်များအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ် ၊စောင့်ကြည့် လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည် ဖော်ဆောင်ရွက်သွားရန်။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးပါရန် အကြောင်းကြားပါသည်။

၃၀.၁၀.၂၀၁၇

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

Myanmar Luxury Group Co., Ltd.
မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် (၁၆)
ရွှေပြည်သာ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1), Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

သို့

ဉက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်နိုဝင်ဘာလ ( )ရက်။

အကြောင်းအရာ။ ။CMP စနစ်ဖြင့် Jacket, Bag နှင့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်အားလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုတင်ပြခြင်း။

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ် ရက-၃/မ-၁၀၇၆/၂၀၁၄(၄၀၃)

ကျွန်တော်တို့၏မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက် (Myanmar Luxury Group Co., Ltd.) သည်ရန်ကုန်တိုင်းဒေသ ကြီး၊ရွှေပြည်သာမြို့နယ်၊ရွှေပြည်သာစက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိမြေ (၀.၂၄၅)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိစက်ရုံအားငှားရမ်း၍ CMP စနစ်ဖြင့် Jacket,Bag နှင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းစပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန ၏ (၂၆-၉-၂၀၁၄)ရက် စွဲပါစာအမှတ် ၂/၂၂၀(ခ)(၆)(၇၄၀၄/၂၀၁၄)၏သဘော ာထားမှတ်ချက်နှင့် အညီ ဆောင်ရွက်ပါရန်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်၊ယင်းနှင့်ပတ်သက်၍-

(က) အဓိကအသုံးပြုမည့်ကုန်ကြမ်း၊ စွန့်ပစ်ပစ္စည်းအသုံးပြုမည့်အစီအစဉ်၊ စနစ်တကျ စွန့်ပစ်မည့် နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲအကောင်အထည်ဖေါ်ဆောင် ရွက်မည်ဖြစ် ကြောင်း။

(ခ) အထည်ချုပ်လုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများလျော့ပါးရေးလုပ်ငန်းစီမံကိန်းများရေးဆွဲချမှတ်ခြင်း၊ထုတ်လုပ်ခြင်းအဆင့်ဆင့် ၌စီမံကိန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖေါ်ပြပြီးလုပ်ငန်း ဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်မည်ဖြစ်ကြောင်း၊

(ဂ) စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊စောင့်ကြည့်လေ့လာခြင်း၊ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးအတွက်သုံးစွဲမည့်ရံပုံငွေ စသည်တို့ပါဝင်သည့်ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် ( Environmental Management Plan – EMP ) ရေးဆွဲတင်ပြမည်ဖြစ်ကြောင်းနှင့် အကောင်အထည်ဖေါ်ဆောင်ရွက်မည်ဖြစ်ကြောင်း

(ဃ) ပြဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများ




# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1), Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

---

စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊

လေးစားစွာဖြင့်

ဇော်လှိုင်မြင့်
မန်နေဂျင်းဒါရိုက်တာ
Myanmar Luxury Group Co., Ltd.



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၄-၂၀၁၅ (၂၉၀၁)
ရက်စွဲ၊ ၂၀၁၄ခုနှစ် စက်တင်ဘာလ ၂၉ ရက်

သို့



**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂.၉.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န-၁၀၇၆/ ၂၀၁၄ (၂၄၆-ဃ)

၁။ Myanmar Luxury Group Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)တွင် CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) နှစ်အလိုက် ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်းလိုအပ်ချက် တင်ပြထားမှုမှာ ဆီလျော်မှုရှိပါသည်။

(စ) နှစ်အလိုက် ကုန်ထုတ်လုပ်မှုတင်ပြချက်နှင့် စက်အင်အား/လူအင်အား ဆီလျော်

(ဆ) ပြည်တွင်းမှ ဝယ်ယူမည့် စက်စာရင်းထဲမှ ချုပ်စက်(၉၀)လုံးအား ဝယ်ယူထားပြီး သင်တန်းပေးနေကြောင်း တွေ့ရှိရသဖြင့် နိုင်ငံတော်မှ ထုတ်ပြန်ထားသောနည်းဥပဒေများနှင့်ညီညွတ်ခြင်း ရှိ-မရှိ စိစစ်ရန် လိုအပ်ပါသည်။

(ဇ ) CMP လုပ်ခနှုန်းတင်ပြထားချက်တွင် လျော့နည်းနေသဖြင့် တိုးမြှင့်ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဈ ) ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြချက်တွင် Jacket အတွက် ဆီလျော်မှုရှိသော်လည်း Bag အတွက် Fabric (Eva)အသုံးနှုန်းအား အတိုင်းအတာအလိုက်အရေအတွက်ဖော်ပြ၍ ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Myanmar Luxury Group Co.,Ltd. မှ CMP စနစ်ဖြင့် Jacket, Bag နှင့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

၂၆.၆.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အထည်အလိပ်လုပ်ငန်း




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁) သဇ္ဇာလမ်း ရန်ကင်းမြို့နယ် ရန်ကုန်

☏ -၀၁-၆၅၈၁၂၈

🖷 -၀၁-၆၅၈၁၃၆


စာအမှတ်၊ရက- ၃/မ- ၁၀၇၆/၂၀၁၄ (၃၄၀)

ရက်စွဲ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၆ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကိစ္စ**

ရည်ညွှန်းချက် ။
- (၁) Myanmar Luxury Group Co. Ltd.၏ (၂၅-[illegible]-၂၀၁၄) ရက်စွဲပါစာ
- (၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၂-၉-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ရက- ၃/ န-၁၀၇၆/၂၀၁၄ (၂၄၆-ဃ)
- (၃) စက်မှုဝန်ကြီးဌာန၏ (၂၉-၉-၂၀၁၄) ရက်စွဲပါ စာအမှတ် ၂၁-၁မ (၂) ၂၀၁၄-၂၀၁၅ (၂၉၀၁)

၁။ Myanmar Luxury Group Co., Ltd.သည် ရန်ကုန်တိုင်းဒေသကြီး ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် (၁၆)ရှိ မြေဧရိယာ ၀.၂၄၅ ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ) တွင် CMPစနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံချုပ် လုပ်ငန်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်လှိုင်မြင့် (အဘ-ဦးဥာဏ်မြင့်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းနှင့် ပတ်သက်၍ စက်မှုဝန်ကြီးဌာန သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်၊

၂။ စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါ စာဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်-

(က) ပြည်တွင်းမှ ဝယ်ယူမည့် စက်စာရင်းထဲမှ ချုပ်စက်(၉၀)လုံးအား ဝယ်ယူထားပြီး သင်တန်းပေးနေကြောင်း တွေ့ရှိရသဖြင့် နိုင်ငံတော်မှ ထုတ်ပြန်ထားသော နည်းဥပဒေများနှင့် ညီညွတ်ခြင်း ရှိ-မရှိ စိစစ်ရန် လိုအပ်ကြောင်း၊

(ခ) CMP လုပ်ခနှုန်းတင်ပြထားချက်တွင် လျော့နည်းနေသဖြင့် တိုးမြှင့်ပြင်ဆင် တင်ပြရန် လိုအပ်ကြောင်း၊

(ဂ) ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြချက်တွင် Jacket အတွက် ဖော်ပြမှုရှိသော်လည်း Bag အတွက် Fabric (Eva) အသုံးနှုန်းအား အတိုင်းအတာ အလိုက် အရေအတွက် ဖော်ပြ [illegible]

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် စက်မှုဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည် တင်ပြပေးပါရန် အကြောင်းကြားပါသည်။

၈/၁၀/၂၀၁၅

အတွင်းရေးမှူး(ကိုယ်စား)
(ခုန်းခန်းမြင့်၊ ညွှန်ကြားရေးမှူး)

အုပ်ချုပ်မှုဒါရိုက်တာ
Myanmar Luxury Group Co., Ltd.
မြေတွက်အမှတ် (၁၆)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊
ရွှေပြည်သာ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ




ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၃၆

စာအမှတ်၊ရက- ၃/မ-၁၀၇၆/၂၀၁၄ ( ၅၆၉ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာ လ ၇ ရက်

**အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်**

Myanmar Luxury Group Co., Ltd.မှ CMPစနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သော သဘောထားမှတ်ချက် နှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည်ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါ ဇယားတွင် စိစစ်မှတ်ချက် ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၇.၁၁.၂၀၁၄

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | (ဝင်းနိုင်) ဒုတိယညွှန်ကြားရေးမှူး(အဖွဲ့ခွဲမှူး) ပြည်ထောင်စုဝန်ကြီးရုံး စက်မှုဝန်ကြီးဌာန | | လက်ခံနိုင်ပါသည်/✓ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |
| ၂ | အထည်အလိပ်လုပ်ငန်း | ဦး[illegible] | ညွှန်ကြားရေးမှူး | လက်ခံနိုင်ပါသည်/✓ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

checking ကန့်သတ် Inv(2)

လမ်း - ၆၆၀
၁၈.၇.၁၄

နောက်ဆက်တွဲ (ဃ)

**ကန့်သတ်**

ကြေးနန်းလိပ်စာ - "စီစစ်တိုး"
တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅
- ၄၀၆၀၆၆
- ၄၀၆၀၆၇
- ၄၀၆၀၆၈
- ၄၀၆၀၆၉
- ၄၀၆၀၇၀
- ၄၀၆၀၇၁


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂၊ နေပြည်တော်


စာအမှတ်၊စစတ- ဦး/၇၂၁( ၄၄၆၁/၂၀၁၄)
ရက်စွဲ၊၂၀၁၄ခုနှစ် စက်တင်ဘာလ ၁၇ ရက်

**အမှာစာ**

၁-၄၇၀၄
၁၉/၇/၁၄

အကြောင်းအရာ။ **Myanmar Luxury Group Co., Ltd. မှ CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် ဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၂-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၀၇၆/၂၀၁၄ (၂၄၆-က)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ Myanmar Luxury Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိ မြေဧရိယာ ၀.၄၂၅ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေးတွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း ( Cash Flow ) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၆% ရှိပြီး ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်မှာ ၁၈% ဖြစ်သဖြင့် ၂% ကွာခြားနေသည်ကို တွေ့ရှိရပါကြောင်းနှင့် ကွဲလွဲမှုကိုစိစစ်ရာ Cashflow Statement တွင် Year-6 မှ Year-10 ထိ Net Profit တန်ဖိုးများ မှားယွင်းနေသည်ကို တွေ့ရှိရပါကြောင်း၊

(ခ) အရင်းအနှီး၏ အခွင့်အလမ်းစရိတ် ၁၂%ဖြင့် တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၁.၀၁ ရှိပြီး အသားတင်လက်ငင်းတန်ဖိုးမှာ ကျပ် ၂၂.၁၄ သန်း ရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၄ နှစ် နှင့် ၆လ ဖြစ်ပြီး အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဃ) Myanmar Luxury Group Co., Ltd. သည် ရာနှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကျပ်သန်း ၁၂၀ ဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊

(င) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်းဝန်ထမ်း (၁၈၆) ဦး အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်း၊

(စ) **ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုများ** အတွက် မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်းနှင့် အဆိုပါအစီအမံများအား လေးစားလိုက်နာရန် လိုအပ်ပါကြောင်း၊

(ဆ) အဆိုပါ ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ခြင်းဖြင့် နိုင်ငံသားများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးတက်မှုမှတစ်ဆင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်လာနိုင်စေခြင်း၊ ဒေသတွင်းလူငယ်များအတွက် အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်လာနိုင်စေခြင်းနှင့် နိုင်ငံတော်အတွက် အခွန်ငွေများတိုးမြှင့်ရရှိလာနိုင်ခြင်း စသည့် အကျိုးကျေးဇူးများ ရရှိလာနိုင်မည် ဖြစ်ပါကြောင်း။

၁၇.၉.၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ၊ဒုတိယညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**
မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်

☎ ၀၁-၆၅၈၁၂၈

🖷 -၀၁-၆၅၈၁၃၆


စာအမှတ်၊ရက- ၃/ မ- ၁၀၇၆ /၂၀၁၄ (၂၇၇)

ရက်စွဲ၊၂၀၁၄ခုနှစ် စက်တင်ဘာလ ၂၂ ရက်

အကြောင်းအရာ။ **စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင် တင်ပြရန် ကိစ္စ**

ရည်ညွှန်းချက် ။

(၁) Myanmar Luxury Group Co., Ltd.၏ (၂၅-၈-၂၀၁၄) ရက်စွဲပါစာ

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၂-၉-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ရက- ၃/ မ-၁၀၇၆ /၂၀၁၄ (၂၄၆-က)

(၃) စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန ၏ (၁၇-၉-၂၀၁၄)ရက်စွဲပါ စာအမှတ်၊ စစတ-ဦး/၇၂၁ (၂၂၆၀/၂၀၁၄)

၁။ Myanmar Luxury Group Co., Ltd.သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် (၁၆)ရှိ မြေဧရိယာ ၀.၂၄၅ ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ) တွင် CMPစနစ်ဖြင့် Jacket ,Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်လှိုင်မြင့် (အဘ-ဦးဥာဏ်မြင့်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုတင်ပြလာပါသည်။

၂။ စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန မှ ရည်ညွှန်းချက်(၃)ပါ စာဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါ သည်-

(က)ငွေသားစီးဆင်းမှုစာရင်း (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၆% ရရှိပြီး ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်မှာ ၁၈% ဖြစ်သဖြင့် ၂% ကွာခြားနေသည်ကို တွေ့ရှိရပါကြောင်း နှင့် ကွဲလွဲမှုကို စိစစ်ရာ Cashflow Statement တွင် Year-6 မှ Year-10 ထိ Net Profit တန်ဖိုးများ မှားယွင်းနေသည်ကို တွေ့ရှိရပါကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် စီမံကိန်းစိစစ်ရေး နှင့်တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးပါရန် အကြောင်းကြားပါသည်။

၂၂.၉.၂၀၂၁
အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

အုပ်ချုပ်မှုဒါရိုက်တာ
Myanmar Luxury Group Co., Ltd.
မြေကွက်အမှတ် (၁၆)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊
ရွှေပြည်သာ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

NPT-3244
20-11-14

# ကန့်သတ်

| ကြေးနန်းလိပ်စာ - **"စိစစ်တိုး"** |
| --- |
| တယ်လီဖုန်းအမှတ်- ၄၀၆၀၆၅ |
| - ၄၀၆၀၆၆ |
| - ၄၀၆၀၆၇ |
| - ၄၀၆၀၆၈ |
| - ၄၀၆၀၆၉ |
| - ၄၀၆၀၇၀ |
| - ၄၀၆၀၇၁ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂၊ နေပြည်တော်

စာအမှတ်၊စစတ-ဦး/၇၂၁(၂၉၄၄/၂၀၁၄)
ရက်စွဲ၊၂၀၁၄ခုနှစ် နိုဝင်ဘာလ ၁၉ ရက်

## အမှာစာ

အကြောင်းအရာ။ **Myanmar Luxury Group Co., Ltd. မှ CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

1-5309
21/11

ရည်ညွှန်းချက် ။ (၁)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၂-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၀၇၆/၂၀၁၄(၂၄၆-က)

(၂)စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန၏ ၁၇-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်-စစတ-ဦး/၇၂၁(၂၂၆၁/၂၀၁၄)

(၃)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၇-၁၁-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၀၇၆/၂၀၁၄(၆၁၉)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ Myanmar Luxury Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိ မြေဧရိယာ ၀.၄၂၅ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေး တွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအားစိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားလာခြင်းအပေါ် ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ Myanmar Luxury Group Co., Ltd. မှ ဘဏ္ဍာရေးရှင်းတမ်းအား ပြန်လည်တင်ပြလာပါသဖြင့် စီးပွားရေးတွက်ချက်မှု ဆိုင်ရာကိစ္စရပ်များအား စိစစ်ပေးနိုင်ပါရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့မှ ရည်ညွှန်းချက် (၃) ပါစာဖြင့် ပြန်လည် ပေးပို့လာပါသည်။

၃။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ်တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) ငွေသားစီးဆင်းမှုစာရင်း ( Cash Flow ) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၉% ရရှိပြီး ကုမ္ပဏီမှ တွက်ချက်တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ခ) အရင်းအနှီး၏ အခွင့်အလမ်းစရိတ် ၁၂%ဖြင့် တွက်ချက်ပါက အကျိုးအမြတ်နှင့် ကုန်ကျစရိတ်အချိုးမှာ ၁.၀၆ ရရှိပြီး အသားတင် လက်ငင်းတန်ဖိုးမှာ ကျပ် ၁၂၇.၆၉ သန်း ရရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) တွက်ချက်ရရှိသော အရင်းကြေကာလမှာ ၃ နှစ် နှင့် ၆လ ဖြစ်ပြီး အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဃ) Myanmar Luxury Group Co., Ltd. သည် ရာနှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကျပ်သန်း ၁၂၀ ဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊

(င) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်းဝန်ထမ်း (၁၉၈) ဦး အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ ဆောင်ရွက်ထားရှိမည်ဟု ဖော်ပြပါရှိပါကြောင်း၊

၂၉.၁၁.၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ၊ဒုတိယညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (င)





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ



စာအမှတ်၊ ၃၄ - အလ /ခွဲ(၂) ၂၀၁၄( ၉၁၆၇ )

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၂၂ ရက်

DPT-1791
24-9-14 သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

14933
26/9

အကြောင်းအရာ။ **Myanmar Luxury Group Co.,Ltd မှ CMP စနစ်ဖြင့် Jacket ,Bag နှင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၉-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက- ၃/န - ၁၀၇၆ / ၂၀၁၄ ( ၂၄၆ - င )

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန် (၁)၊ မြေတိုင်း အမှတ် (၄၂)၊ မြေကွက်အမှတ်(၁၆) ၌ Myanmar Luxury Group Co.,Ltd တည်ထောင်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ CMP စနစ်ဖြင့် Jacket ,Bag နှင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်သည် အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာ နှင့်အတူ ၁၈-၉-၂၀၁၄ ရက်နေ့ ၀၉း၃၀ နာရီတွင် တာဝန်ခံများကို တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Myanmar Luxury Group Co.,Ltd ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည် လိုအပ်ချက်နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. Jacket | 2.475 yds/pcs | ကိုက်ညီမှုရှိပါသည်။ |
| 2.Bag | 1pcs | ကိုက်ညီမှုရှိပါသည်။ |

အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက်နှုန်းထား၊ တားမြစ်သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှု ရှိကြောင်းတွေ့ရှိရပါသည် ။ Bag များမှာ အဝတ်အစားများ ယာယီထည့်သော အိတ်များဖြစ်ပြီး Cut Pieces အနေဖြင့် တင်သွင်းလာခြင်းနှင့် Accessories ပြည့်စုံစွာ ချုပ်ပေးရခြင်းတို့ ဖြစ်ပြီး အပ်ချည်သုံးစွဲမှုတွင် ကလေးဝတ်များဖြစ်၍ သုံးစွဲမှု နည်းခြင်းဖြစ်ပါသည်။

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | လိုအပ်မည့်ကုန်ကြမ်း အရေအတွက် |
|---|---|---|
| 1. Jacket | 90000 pcs | 222750 yds |
| 2.Bag | 240000 pcs | 240000 pcs |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက Jacket မှာ စုစုပေါင်း ကုန်ကြမ်း 222750 Yds ကုန်ကျမည်ဖြစ်ပြီး Bag မှာ 240000 pcs ဟု ဖော်ပြထားခြင်းကြောင့် ကိုက်ညီမှုရှိပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ။** အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် လက်ရှိ လက်ခနှုန်းထား နှင့် နှိုင်းယှဥ်ရာတွင် Jacket တွင်ဆီလျော်မှုရှိပြီး Bag မှာ နည်းနေသော်လည်း လွယ်ကူသော ချုပ်နည်းဖြစ်၍ ဆီလျော်မှု ရှိကြောင်းတွေ့ရှိရပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း၏ လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. Jacket | 24 US$/Dz | 18-20 US$/Dz |
| 2.Bag | 2.76 US$/Dz | 5-6 US$/Dz |

(ဂ) **နှစ်စဥ်ထုတ်လုပ်မှု ၊ စက်အင်အား ၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် Jacket နှင့် Bag များ အတွက် Single Needle Machines ၁၀၄ လုံး ၊ Overlock Machines ၁၀ လုံး၊ Flat King Machines ၁၆ လုံး ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး Operator ၁၄၀ ဦး၊ Helper ၁၂ ဦး၊ Quality Control Workers ၅ ဦး၊ Cutting Workers ၃ ဦး၊ Finishing Workers ၄ ဦး ဖြင့် ချုပ်လုပ်မည်ဖြစ်ပါသည်။ စက်အင်အားအနေဖြင့် Cutting ပိုင်းတွင် Hand Knife &Band Knife များဖော်ပြထားမှု မရှိခြင်း ၊ Finishing ပိုင်းပစ္စည်းများ လိုအပ်ခြင်း နှင့် Two Needle Machine များ လိုအပ်နေပါသည်။ Cutting Workers ၃ ဦးသာရှိ၍ လူဦးရေနည်းနေပြီး Finishing Workers ၄ ဦးသာရှိသဖြင့် Packing က အစပြု လုပ်ရမည်ဖြစ်၍ လူဦးရေထပ်မံခန့်ထားသင့်ပါသည် -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. Jacket | စက်(၁)လိုင်း | 300 pcs/10 hour | 93000 pcs |
| 2.Bag | စက်(၁)လိုင်း | 640 pcs/10 hour | 198400 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှု အရေအတွက်နှင့် နှိုင်းယှဥ်လျှင် Bag အနည်းငယ် လိုနေသော်လည်း လိုင်းပြောင်းထုတ်လုပ်ခြင်းဖြင့် ထုတ်လုပ်နိုင်မည်ဖြစ်ပါသည် -

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ |
|---|---|---|
| 1. Jacket | 90000 pcs | 93000-93500 pcs |
| 2.Bag | 240000 pcs | 198400 -199000 pcs |

၃။ သို့ဖြစ်၍ Myanmar Luxury Group Co.,Ltd ကို ခွင့်ပြုပေးသင့်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်ရာ CMP စနစ်ဖြင့် Jacket , Bag နှင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်စေသင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Myanmar Luxury Group Co.,Ltd
ရုံးလက်ခံ
မျှောစာတွဲ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☏ -၀၁-၆၅၈၁၂၈

🖷 -၀၁-၆၅၈၁၃၆


စာအမှတ်၊ရက- ၃/ မ- ၁၀၇၆ / ၂၀၁၄ (၃၄၉)

ရက်စွဲ၊၂၀၁၄ခုနှစ် အောက်တိုဘာ လ ၃ ရက်

အကြောင်းအရာ။ **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင် တင်ပြရန် ကိစ္စ**

ရည်ညွှန်းချက် ။ (၁) Myanmar Luxury Group Co., Ltd.၏ (၂၅-၈-၂၀၁၄) ရက်စွဲပါစာ

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၂-၉-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ရက- ၃/ မ-၁၀၇၆ / ၂၀၁၄ (၂၄၆-င)

(၃) CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၏ (၂၂-၉-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၄ (၉၁၉၁)

၁။ Myanmar Luxury Group Co., Ltd.သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာ မြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် (၁၆)ရှိ မြေဧရိယာ ၀.၂၄၅ ဧက (၉၉၁.၄၈၀၇ စတုရန်းမီတာ) တွင် CMPစနစ်ဖြင့် Jacket ,Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်လှိုင်မြင့် (အဘ-ဦးဥာဏ်မြင့်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်းချက်(၁)ပါ စာဖြင့် အဆိုပြုတင်ပြလာခြင်းအား CMP လုပ်ငန်း များကြီးကြပ်ရေးကော်မတီသို့ ရည်ညွှန်း(၂) ပါစာဖြင့် သဘောထားတောင်းခံခဲ့ ပါသည်။

၂။ CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ မှ ရည်ညွှန်းချက်(၃)ပါ စာဖြင့် အောက်ပါ အတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်-

(က)အဆိုပြုချက်ပါ ထုတ်လုပ်မည့် Jacket နှင့် Bag များအတွက် Single Needle Machines ၁၀၄လုံး ၊Overlock Machines ၁၀လုံး၊ Flat King Machines ၁၆ လုံး ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး Operator၁၄၀ဦး၊ Helper ၁၂ဦး၊ Quality Control Workers ၅ဦး၊ Cutting Workers ၃ဦး၊ Finishing Workers ၄ဦး ဖြင့် ချုပ်လုပ်မည်ဖြစ်ပါသည်။ စက်အင်အားအနေဖြင့် Cutting ပိုင်းတွင် Hand Knife &Band Knife များဖော်ပြထားမှုမရှိကြောင်း ၊ Finishing ပိုင်းပစ္စည်းများ လိုအပ်ခြင်းနှင့် Two Needle Machine များလိုအပ်နေကြောင်း၊ Cutting Workers ၃ဦးသာရှိ၍ လူဦးရေနည်းနေပြီး Finishing Workers ၄ဦး သာရှိသဖြင့် Packing ကအစပြုလုပ်ရမည်ဖြစ်၍ လူဦးရေ ထပ်မံခန့်ထားသင့်ကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးပါရန် အကြောင်းကြားပါသည်။

၃/၁၀/၂၀၂၄

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

အုပ်ချုပ်မှုဒါရိုက်တာ
Myanmar Luxury Group Co., Ltd.
မြေကွက်အမှတ် (၁၆)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊
ရွှေပြည်သာ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# Myanmar Luxury Group Co., Ltd.

## မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက်

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

နိုင်ငံတကာအဆင့်မီ

C.M.P စနစ်ဖြင့် Jacket,Bag

နှင့်

အဝတ်အထည်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်

အဆိုပြုလွှာ






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၃၆

စာအမှတ်၊ရကက- ၃/မ-၁၀၇၆/၂၀၁၄ ( ၅၇၀ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၇ ရက်

## အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်

Myanmar Luxury Group Co., Ltd.မှ CMPစနစ်ဖြင့် Jacket, Bag နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သော သဘောထားမှတ်ချက် နှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာန၏ လမ်းညွှန်ချက် နှင့်အညီ ပြန်လည်ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါ ဇယားတွင် စိစစ်မှတ်ချက် ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(လက်မှတ်)
၇.၁၁.၂၀၁၄
အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ | (လက်ရေး) | (လက်ရေး) | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | (လက်မှတ်) လှသီတာ စက်ရုံမှူး |

စထည်ချုပ်စက်ရုံအမှတ်(၁၅)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1), Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်နိုဝင်ဘာလ (၂၅)ရက်။

အကြောင်းအရာ။ ။CMP စနစ်ဖြင့် Jacket, Bag နှင့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍အဆိုပြုလွှာပေးပို့ခြင်း။

ကျွန်တော်တို့၏ မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက် (Myanmar Luxury Group Co., Ltd.) သည်ရန်ကုန်တိုင်းဒေသ ကြီး၊ရွှေပြည်သာမြို့နယ်၊ရွှေပြည်သာစက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိမြေ (၀.၂၄၅)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိစက်ရုံအားငှားရမ်း၍ CMP စနစ်ဖြင့် Jacket,Bag နှင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

ယင်းအဆိုပြုချက်အား (၁ - ၉ - ၂၀၁၄) ရက်နေ့တွင်ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၄/၂၀၁၄) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပြီး သက်ဆိုင်ရာဝန်ကြီးဌာနများ၏သဘောထားမှတ်ချက်များနှင့်အညီပြင်ဆင်ပြီးဖြစ်သဖြင့်ဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်နှင့် စိစစ်ပေးနိုင်ပါရန် အဆိုပြုလွှာ ( ၇ ) စုံအားပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်လှိုင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Myanmar Luxury Group Co., Ltd.



# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1), Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်ဩဂုတ်လ (၂၅)ရက်။

အကြောင်းအရာ။ ။CMP စနစ်ဖြင့် Jacket, Bag နှင့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍အဆိုပြုလွှာပေးပို့ခြင်း။

ကျွန်တော်တို့၏မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက် **(Myanmar Luxury Group Co., Ltd.)** သည်ရန်ကုန်တိုင်းဒေသကြီး၊ရွှေပြည်သာမြို့နယ်၊ရွှေပြည်သာစက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိမြေ (၀.၂၄၅)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိစက်ရုံအားငှားရမ်း၍ **CMP** စနစ်ဖြင့် **Jacket,Bag** နှင့် အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

သို့ပါ၍အဆိုပြုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်နှင့်စိစစ်ပေးနိုင်ပါရန်အတွက်အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဇော်လှိုင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Myanmar Luxury Grorp Co., Ltd.



# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1),
Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ် ဩဂုတ်လ (၂၅)ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ(၂၀)အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များခံစားခွင့်ပြုပါရန်လျှောက်ထားခြင်း။

ကျွန်တော်တို့၏မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက် (**Myanmar Luxury Group Co., Ltd.**) သည်ရန်ကုန်တိုင်းဒေသ ကြီး၊ရွှေပြည်သာမြို့နယ်၊ရွှေပြည်သာစက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆)ရှိမြေ (၀.၂၄၅)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိစက်ရုံအားငှားရမ်း၍ **CMP** စနစ်ဖြင့် **Jacket,Bag** နှင့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီသည်အဆိုပြုလုပ်ငန်းအားကျပ်(၁၂၀,၀၀၀,၀၀၀)ကိုရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ယင်းတွင်ငွေသားကျပ်(၆၀,၃၈၀,၀၀၀)၊စက်ပစ္စည်းနှင့်လုပ်ငန်းသုံးပစ္စည်းကျပ် (၄၃,၅၇၀,၀၀၀)၊ နှင့်ရုံးသုံးပစ္စည်း ကျပ်(၁၆,၀၅၀,၀၀၀)၊ ကိုရင်းနှီး မြှုပ်နှံမည်ဖြစ်ပါသည်

ကျွန်တော်တို့၏ပွင့်လင်းလာသည့်မြန်မာနိုင်ငံ၏စီးပွားရေးဈေးကွက်သို့နိုင်ငံတကာ အဝတ်အထည်ကုမ္ပဏီကြီးများစိတ်ဝင်စားလာသည်နှင့်အမျှမြန်မာနိုင်ငံ၏လူ့စွမ်းအားအရင်းအမြစ်ပြည့်စုံမှု၊သဘာဝအရင်းအမြစ်ပေါကြွယ်ဝမှုကြောင့်ကျွန်တော်များကုမ္ပဏီသို့လုပ်ငန်းအပ်နှံလိုကြောင်းကမ်းလှမ်းလာပါသည်၊သို့ပါ၍လုပ်ငန်းဆောင်ရွက်ခွင့်ရရှိပါကနိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေမည်ဖြစ်ပြီး မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရေးနှင့်နိုင်ငံတော်၏စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုနိုင်မည် ဖြစ်ပါသည်၊




# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1),
Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

သို့ပါ၍ ကျွန်တော်တို့၏အဆိုပြုလျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ပုဒ်မ(၂၀)အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအားခံစား ခွင့်ပြုပါရန်လျှောက်ထား အပ်ပါသည်။

အဆိုပြုလွှာနှင့်အတူအောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကိုပူးတွဲတင်ပြ အပ်ပါသည်-

(က) ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ၊

(ဃ) မြေပိုင်ဆိုင်မှုအထောက်အထားနှင့်မြေငှားစာချုပ်

(င) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းနှင့်ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ၊

လေးစားစွာဖြင့်

ဇော်လှိုင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Myanmar Luxury Grorp Co., Ltd.




**MYANMAR LUXURY GROUP CO., LTD.**

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1), Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3rd Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ် ဩဂုတ်လ (၂၅)ရက်။

အကြောင်းအရာ။ ။ <u>CMPစနစ်ဖြင့် Jacket, Bag နှင့်အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း၏ အဆိုပြုလွှာနှင့်စပ်လျဉ်း၍ကတိဝန်ခံချက်များတင်ပြခြင်း။</u>

ကျွန်တော်တို့၏မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက် (**Myanmar Luxury Group Co., Ltd.**) သည် ရန်ကုန်တိုင်းဒေသ ကြီး၊ရွှေပြည်သာမြို့နယ်၊ရွှေပြည်သာစက်မှုဇုန်၊မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက် အမှတ်(၁၆)ရှိမြေ (၀.၂၄၅)ဧကနှင့်ယင်းမြေကွက်ပေါ်ရှိစက်ရုံအားငှားရမ်း၍ **CMP** စနစ်ဖြင့် **Jacket,Bag** နှင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီမြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

ထိုသို့ဆောင်ရွက်ရာတွင်အောက်ပါအတိုင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်-

- ဤအဆိုပြုလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီးနိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မျှပါဝင်ပိုင်ဆိုင်ခြင်းလုံးဝမရှိကြောင်းဝန်ခံကတိပြုပါသည်၊
- ဤအဆိုပြုလုပ်ငန်းသည်လုပ်ငန်းအသစ်ဖြစ်ပြီးမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ရ ယူထားခြင်းမရှိကြောင်းဝန်ခံကတိပြုပါသည်၊
- မြေယာနှင့်ပတ်သက်သည့်နိုင်ငံတော်အစိုးရမှသတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းချက်များ၊ညွှန် ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်၊
- ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ရေထု၊လေထုနှင့်မြေထုတို့ကိုညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက်လိုအပ်သောအစီအမံများမီးဘေးကြိုတင်ကာကွယ်မှုများကိုနိုင်ငံတော်မှ သတ်မှတ်ထားသည့်လုပ်ထုံးလုပ်နည်းများ၊စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာဆောင်ရွက် မည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်၊
- ခွင့်ပြုမိန့်ရရှိလျှင်မြန်မာနိုင်ငံကုန်သည်ကြီးများအသင်းလက်အောက်ရှိသက်ဆိုင်ရာအသင်းအဖွဲ့ တွင်အသင်းဝင်အဖြစ်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်းကတိပြုပါသည်၊




# MYANMAR LUXURY GROUP CO., LTD.

FACTORY : No.(16/42). sittmu Padaethar Street, Shwe Pyi Thar Industrial (1), Shwe Pyi Thar Township, Yangon.
OFFICE : No.(42) Marlar Myaing 3th Street, (16)Quarter Hlaing Township, Yangon.
Phone: 01-612560, 09-254258924, 09-5020330

- မိမိတို့ကုမ္ပဏီဝန်ထမ်းများ၏လစာငွေ(၁)နှစ်လျှင်ဝင်ငွေကျပ်(၂,၀၀၀,၀၀၀/-)နှင့်အထက်ရရှိသောဝန်ထမ်းများ၏ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများအတိုင်းကုမ္ပဏီမှပေးဆောင်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်၊
- လုပ်ငန်းအကောင်အထည်ဖေါ်ဆောင်ရွက်ရာတွင်နိုင်ငံတော်၏စက်ရုံအလုပ်ရုံ၊အလုပ်သမားဥပဒေအခြေခံစည်းမျဉ်းစည်းကမ်းများကိုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်၊
- **C.S.R** ရံပုံငွေအဖြစ်နှစ်စဉ်ကုမ္ပဏီအသားတင်အမြတ်ငွေ၏(၂)ရာခိုင်နှုန်းအားသီးသန့်ထားရှိမည်ဖြစ်ကြောင်းကတိပြုတင်ပြအပ်ပါသည်၊
- မိမိတိုအလုပ်ရုံမှလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးစနစ်တကျအစီအမံများချမှတ်ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်၊
- အလုပ်ရုံတည်ဆောက်ပြီးစီးပြီး စက်နှင့်လုပ်ငန်းသုံးပစ္စည်းများတပ်ဆင်ပြီးပါကစက်မှုဝန်ကြီးဌာန၊စက်မှုနှင့်လျှပ်စစ် စစ်ဆေးမှုခံယူခြင်းနှင့်စက်မှုလုပ်ငန်းလိုင်စင်ရရှိပြီးမှသာစက်ရုံအားလည်ပတ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်းကတိပြုပါသည်

လေးစားစွာဖြင့်

ဇော်လှိုင်မြင့်

မန်နေဂျင်းဒါရိုက်တာ

Myanmar Luxury Grorp Co., Ltd.



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏

## အဆိုပြုချက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

စာအမှတ်

ရက်စွဲ ၂၀၁၄ ခုနှစ် ဩဂုတ်လ (၂၅) ရက်။

ကျွန်တော်/ ကျွန်မသည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါ အချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်၊

ရင်းနှီးမြှုပ်နှံလိုသူ၏ –

(က)အမည် ဦးဇော်လှိုင်မြင့်

(ခ)အဖအမည် ဦးဉာဏ်မြင့်

(ဂ)နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဒဂမ (နိုင်) ၀၁၉၈၁၈

(ဃ)နေရပ်လိပ်စာ အမှတ်(၄၂)၊ မာလာမြိုင် (၃)လမ်း၊(၁၆)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င)လူမျိုး၊ဘာသာ ဗမာ/ ဗုဒ္ဓဘာသာ

(စ)အဖွဲ့အစည်းအမည် မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက် **Myanmar Luxury Group Co., Ltd.**

(ဆ)လုပ်ငန်းအမျိုးအစား လုပ်ငန်းစုံ

(ဇ)အဖွဲ့အစည်းတည်ရှိရာအရပ် အမှတ်(၄၂)၊ မာလာမြိုင် (၃)လမ်း၊(၁၆)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂။ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါကဖက်စပ်ပြုလုပ်မည့်သူများ၏–

(က) အမည် (၁)................................ (၂)......................................

................................ ......................................

(ခ) အဖအမည် (၁)................................ (၂)......................................

................................ ......................................

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်

(၁)................................ (၂)......................................

(ဃ) နေရပ်လိပ်စာ (၁)................................ (၂)......................................

................................ ......................................

(င) လူမျိုး၊ဘာသာ (၁)................................ (၂)......................................

................................ ......................................

(စ) အဖွဲ့အစည်းအမည် ...................................... ......................................

(ဆ) လုပ်ငန်းအမျိုးအစား ..........................................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ်...........................................................................

..................................................................................................................

( နှစ်ဦးသို့မဟုတ် အဖွဲ့အစည်းနှစ်ခုထက်ပိုပါကသီးခြားစာရွက်တွင်ဖော်ပြပေးရန်)

(၃) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား–

(က)ကုန်ထုတ်လုပ်မှုလုပ်ငန်း: CMP စနစ်ဖြင့် Jacket, Bag နှင့်

အဝတ်အထည်မျိုးစုံချုပ်လုပ်ခြင်းလုပ်ငန်း

(ခ)ဝန်ဆောင်မှုလုပ်ငန်း..........................................................................

(ကုန်ပစ္စည်းအမည်သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

(၄) လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က)နိုင်ငံသားနှင့်နိုင်ငံသားတို့ကအစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..................................................................................................

(ခ)အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..................................................................................................

(ဂ)အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့်သို့မဟုတ်ဖွဲ့စည်းမည့်စီးပွားရေးပုံသဏ္ဌာန်–

(က) တစ်ဦးတည်းပိုင်..........................................................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း.............................................................................

(ဂ) လီမိတက်ကုမ္ပဏီ မြန်မာလပ်စရီဂရုကုမ္ပဏီလီမိတက်

**Myanmar Luxury Group Co., Ltd.**

(ဃ) သမဝါယမအသင်း (အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ)

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ထည့်ဝင်မည့်မတည်ငွေရင်းအချိုးအစား၊စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏အမည်၊နေရပ်လိပ်စာများနှင့်ရာထူး တို့ကိုပူးတွဲတင်ပြရန်) နောက်ဆက်တွဲ ( ၁ )

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့ကထည့်ဝင်မည့်အစုငွေအချိုးအစားနှင့်ပမာဏ

..................................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား

..................................................................................................

(ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

(နေရာမလုံလောက်ပါကသီးခြားစာရွက်ဖြင့်ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း ကျပ် ၅၀၀,၀၀၀,၀၀၀/–

(ခ) အစုရှယ်ယာအမျိုးအစား ကျပ် ၁၀၀,၀၀၀ တိတိတန်သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ကျပ် ၁၂၀,၀၀၀,၀၀၀/–

Presented for filing by : **U ZAW HLAING MYINT**

Name, Address and Description of Allot tees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | ordinary |
| U Zaw Hlaing Myint<br>12/Da Ga Ma(N)<br>019818 | No(42), Marlarmyaing 3rd Street, Hlaing Township, Yangon. | | Merchant | 250 |
| U Zayar Nyunt<br>12/Ba Ta Hta (N)<br>000656 | No(43/3), Inyamyaing Street, Bahan Township, Yangon. | | Merchant | 250 |
| Zaw Hlaing Myint<br>Managing Director<br>Myanmar Luxury Group Co., Ltd. | | | | |
| | | | Total | 500 (Shares) |

Signature

8.4.13

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ



အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ လပ်စရီ ဂရု ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# MYANMAR LUXURY GROUP COMPANY LIMITED

## ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ဆောက်လုပ်ရေး လုပ်ငန်းများကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အစိုးရက ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်း ၊ အမိန့်များ၊ ညွှန်ကြားချက် များ နှင့် အညီ မိမိ တစ်ဦး တည်းဖြစ်စေ၊ မည်သည့် ပုဂ္ဂိုလ် လုပ်ငန်းအဖွဲ့အစည်း ၊ သမဝါ ယမ အသင်း (သို့) နိုင်ငံပိုင် စီးပွားရေး အဖွဲ့အစည်းများနှင့် ဖက်စပ်၍ဖြစ်စေ၊ ပူးပေါင်းဆောင်ရွက်ခြင်း ဖြစ်စေ လုပ်ကိုင် ဆောင်ရွက်ရန် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများ ၊ မြို့တော် စည်ပင်သာယာရေး ကော်မတီများ ၊ တိုင်းခရိုင်နှင့် မြို့နယ် စည်ပင်သာယာရေး အဖွဲ့များ၏ သတ်မှတ် ပြဋ္ဌာန်းချက်များနှင့် အညီ သင့်လျော်ရာ မြေနေရာများတွင် အောက်ဖော်ပြပါ ဆောက်လုပ်ရေး လုပ်ငန်းများ အတွက် အကြို အင်ဂျင်နီယာလုပ်ငန်းများဖြစ်သော မြေစမ်းသပ်ခြင်း၊ ပုံစံထုတ်ခြင်း ၊ ခန့်မှန်းခြေစာရင်း တွက်ချက်ခြင်းနှင့် ဆောက်လုပ်ခြင်း ၊ ထိန်းသိမ်းပြုပြင် မွမ်းမံခြင်းများကို ဆောင်ရွက်ရန် -

-သက်ဆိုင်ရာဝန်ကြီးဌာနများ မြို့တော်စည်ပင်သာယာရေးကော်မတီများ၊ တိုင်းခရိုင်နှင့် မြို့နယ်စည်ပင်သာယာရေး အဖွဲ့များ၏ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ သင့်လျော်ရာ မြေနေရာများတွင် အောက်ဖော်ပြပါဆောက်လုပ်ရေး လုပ်ငန်း များအတွက် အကြို အင်ဂျင်နီယာလုပ်ငန်းများဖြစ်သော မြေစမ်းသပ်ခြင်း၊ ပုံစံထုတ်ခြင်း၊ ခန့်မှန်းခြေစာရင်း တွက်ချက်ခြင်းနှင့် ဆောက်လုပ်ခြင်း၊ ထိန်းသိမ်းပြုပြင်မွမ်းမံခြင်းများကို ဆောင်ရွက်ရန်

(၁) လူနေထိုင်ရန် အိမ်ယာအမျိုးမျိုး
(၂) ဆေးရုံ၊ ကျောင်း၊ ဘော်ဒါဆောင်အမျိုးမျိုး
(၃) ရုံး၊ စက်ရုံ၊ အလုပ်ရုံအမျိုးမျိုး
(၄) လမ်း၊ တံတား၊ လေယဉ်ကွင်းနှင့် လေဆိပ်အဆောက်အဦး၊ ဘူတာရုံ၊ ယာဉ်ရပ်နားစခန်း၊ သင်္ဘောဆိပ်၊ ဆိပ်ခံတံတား၊ ကုန်ချစခန်းအမျိုးမျိုး
(၅) ဈေး၊ ဂိုဒေါင်၊ သိုလှောင်ရုံအမျိုးမျိုး
(၆) ဟိုတယ်၊ မိုတယ်၊ အင်း၊ ဧည့်ရိပ်သာအမျိုးမျိုး
(၇) ဆက်သွယ်ရေးဆိုင်ရာ စခန်း၊ တာဝါတိုင်စသည်များ
(၈) စေတီ၊ ပုထိုး၊ ဘုန်းတော်ကြီးကျောင်း၊ ရိပ်သာ၊ ဓမ္မာရုံနှင့် ဘာသာရေးအဆောက်အဦးအမျိုးမျိုး
(၉) ဆည်မြောင်း တာတမံအမျိုးမျိုး
(၁၀) ဆောက်လုပ်ရေး အင်ဂျင်နီယာလုပ်ငန်းနှင့် ဆက်စပ်နေသည့် ရေသန့်နှင့် လျှပ်စစ်လုပ်ငန်း အမျိုးမျိုး
(၁၁) အခြားလုပ်ငန်းများနှင့် ဆက်စပ်နေသည့် ဆောက်လုပ်ရေး

၂။ ဆောက်လုပ်ရေး အင်ဂျင်နီယာ လုပ်ငန်းဆိုင်ရာ ကုန်ကြမ်း၊ ကုန်ချော ပစ္စည်းများ အထောက်အကူပြု စက်ယန္တယား ၊ ယာဉ်နှင့် အရန်ဆက်စပ်ပစ္စည်းများကို လုပ်ငန်းသုံးအတွက် ပြည်ပမှ တင်သွင်းခြင်း ၊ ပြည်တွင်း၌ ဝယ်ယူခြင်း။

၃။ ဆောက်လုပ်ပြီးအဆောက်အဦးများကို အရောင်းကောင်တာ ဖွင့်လှစ်ရောင်းချခြင်း ၊ ငှားရမ်းခြင်း ။

၄။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း ၊ ကုမ္ပဏီ ၊ ဘဏ် ၊ သို့မဟုတ် ၊ ငွေကြေး အဖွဲ့အစည်း ထံ မှမဆို ငွေချေးယူရန် ။

မှတ်ချက်။ ။ ကုမ္ပဏီသည်အထက်ဖော်ပြပါရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသောတရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာတည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ ၊ အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ်၊ ခွင့်ပြုထားရှိခြင်းမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခွင်းချက်ထားရှိပါသည်။

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ လပ်စရီ ဂရု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် မြန်မာ လပ်စရီ ဂရု ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များ မှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀၀၀၀၀၀၀ /-( ကျပ်
သန်းငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀ /-( ကျပ်
တစ်သိန်း တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀ )
ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ရေး၊
(၂) သစ်တောထွက်ပစ္စည်းများနှင့် ထပ်ဆင့်တိုးမြှင့် သစ်အခြေခံကုန်ပစ္စည်းများရောင်းဝယ်ရေး၊
(၃) တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများနှင့် တိရိစ္ဆာန်အစားအစာရောင်းဝယ်ရေး၊
(၄) ရေထွက်ကုန်ပစ္စည်းများအားရောင်းဝယ်ရေး၊
(၅) ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးနှင့်များရောင်းဝယ်ရေး၊
(၆) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ရေး၊
(၇) စက်ရုံသုံးပစ္စည်းများ နှင့်ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ရေး၊
(၈) အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ရေး၊
(၉) လူသုံးကုန်ပစ္စည်းများရောင်းဝယ်ရေး၊
(၁၀) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများရောင်းဝယ်ရေး၊
(၁၁) လျှပ်စစ်နှင့်အီလက်ထရောနစ်ကုန်ပစ္စည်းများရောင်းဝယ်ရေး၊
(၁၂) ယာဉ်နှင့်စက်ကိရိယာ နှင့် အပိုပစ္စည်းများရောင်းဝယ်ရေး၊
(၁၃) ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ရေး၊
(၁၄) ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ရေး၊
(၁၅) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ရေး၊
(၁၆) အထည်လိပ်နှင့် အဝတ်ထည်များရောင်းဝယ်ရေး၊
(၁၇) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ရေး၊
(၁၈) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူပြုပစ္စည်းများရောင်းဝယ်ရေး၊
(၁၉) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့်အကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊
(၂၀) ကြော်ငြာနှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်း၊
(၂၁) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့်လုပ်ငန်းများ၊
(၂၂) ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး၊
(၂၃) သယ်ယူပို့ဆောင်ရေးလုပ်ငန်း(မီးရထားနှင့် လေကြောင်းမှအပ)၊
(၂၄) ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း၊
(၂၅) တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း၊
(၂၆) စီမံကိန်းအသစ်များ၌ ဖြစ်မြောက်နိုင်စွမ်းရှိ-မရှိလေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမန်ကိန်းကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ
(၂၇) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊
(၂၈) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ။
(၂၉) လျှပ်စစ်နှင့် အီလက်ထရောနစ်ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့်မွမ်းမံတည်ဆောက်ခြင်းလုပ်ငန်းများ၊
(၃၀) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့်ကုန်ထုတ်လုပ်ခြင်း။
(၃၁) (ကျွန်းမှအပ)သစ်နှင့်သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့်အသာသေစေခြင်း။
(၃၂) တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွတ်ခြင်း။
(၃၃) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
(၃၄) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊
(၃၅) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၆) အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း၊
(၃၇) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၈) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများထုတ်လုပ်ခြင်း၊
(၃၉) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများထုတ်လုပ်ခြင်း၊
(၄၀) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၄၁) လျှပ်စစ်နှင့်အီလက်ထရောနစ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၄၂) အထည်လိပ်နှင့် အဝတ်ထည်များ ထုတ်လုပ်ခြင်း၊
(၄၃) အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့်ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
(၄၄) ဆောက်လုပ်ရေးနှင့်သက်ဆိုင်သောလုပ်ငန်းများ၊
(၄၅) ကျောက်မျက်လုပ်ငန်းများ၊
(၄၆)ဟိုတယ်လုပ်ငန်း
(၄၇)ခရီးသွားလုပ်ငန်း
(၄၈)အသေးစားငွေရေးကြေးရေးလုပ်ငန်း

၆။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟုယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ၊အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများအမိန့်ကြော်ငြာစာများ၊ အမိန့်များ ကခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလ အားလျော်စွာတည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊အမိန်ကြော်ငြာစာများ၊အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားရှိခြင်း

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး ဇော်လှိုင်မြင့်<br>ကုန်သည်<br>အမှတ်(၄၂)၊ မာလာမြိုင်(၃)လမ်း၊ လှိုင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဒဂမ(နိုင်)၁၁၉၈၁၈ | ၂၅၀ | |
| ၂ | ဦး ဇေယျာညွန့်<br>ကုန်သည်<br>အမှတ်(၄၃/၃)၊ အင်းယားမြိုင်လမ်း၊ ဗဟန်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဗတထ(နိုင်)၀၀၀၆၅၆ | ၂၅၀ | |

နေပြည်တော် ။ နေ့စွဲ ၊ ၂၀၁၃ ခုနှစ်၊ ၀၃ လ၊ ၂၉ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးမြင့်ဦး LL.B

[illegible] (စဉ်-၀၁၇၇/၈၇)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ လပ်စရီ ဂရု ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀၀၀၀၀၀၀ /-(ကျပ် **သန်းငါးရာ** တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀ /-(ကျပ် **တစ်သိန်း** တိတိ)တန်အစုရှယ်ယာပေါင်း ၅၀၀၀ ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၄င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၄င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၀ ) ဦးထက်မများစေရ။ ပထမဒါရိုက်တာများသည်-

( ၁ ) ဦး ဇော်လှိုင်မြင့်

( ၂ ) ဦး ဇေယျာညွန့်

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၄င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၄င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၄င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၄င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၄င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေ များ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ၊ အခွင့်အလမ်းများ မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်း များကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိ ရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒိဘင်ချာများ ၊ ဒိဘင်ချာစတော့ပ်များ ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာ များ၊ ငွေချေးစာချုပ်များ ၊ သို့မဟုတ် ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်း များ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင်ဤကုမ္ပဏီ၏ ပစ္စည်းရပ်များအားလုံးသို့မဟုတ်တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော် လည်းကောင်း၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများ အတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော် သည့် အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်း များကို အမြဲ တမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင် ရွက်ရန် ၊ ထို့အပြင် အဆိုပါကိစ္စများ အတွက် ကုမ္ပဏီ၏ မည့်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကို ဖြစ်စေ ၊ တစ်စိတ်တစ်ဒေကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၄င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြား အကြောင်းများ ကြောင့် ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီးများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန် ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက် အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန် ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသော နည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ဤကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုး ခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံမှုထားရန်နှင့် စီမံခန့်ခွဲထား ရန်၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းများကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်း ချက်များ ပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သောလုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်းသို့မဟုတ်ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန် နှင့် အဆိုပါကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျ စရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤ ကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါ အားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၎င်းတို့နှင့် စပ်လျဉ်း သော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေး သည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံး ကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤတွင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေ ရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့သို့သော ဥဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြု ရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းသည်ပတ်မှု အားလုံး အတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကိုအောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့် အညီ ထားသို ထိန်းသိမ်းဆောင်ရွက်သွားရမည် ။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၄င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်း များနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထိုအပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ် ထားသည့် စာရွက်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့သည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေ များ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး ဇော်လှိုင်မြင့်<br>ကုန်သည်<br>အမှတ်(၄၂)၊ မာလာမြိုင်(၃)လမ်း၊<br>လှိုင်မြို့နယ် ၊ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဒဂမ(နိုင်)၀၁၉၈၁၈ | ၂၅၀ | |
| ၂ | ဦး ဇေယျာညွန့်<br>ကုန်သည်<br>အမှတ်(၄၃/၃)၊ အင်းယားမြိုင်လမ်း၊<br>ဗဟန်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဗတထ(နိုင်)၀၀၀၆၅၆ | ၂၅၀ | |

ပြည်တော် ။ နေ့စွဲ ၊ ၂၀၁၃ ခုနှစ် ၀၃ လ၊ ၂၉ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးမြင့်ဦး LL.B

THE MYANMAR COMPANY ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

OF

# MYANMAR LUXURY GROUP COMPANY LIMITED



I. The name of the Company is **MYANMAR LUXURY GROUP COMPANY LIMITED**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks- **500000000** /-(Kyats **Five Hundred Million** Only ) divided into (**5000** ) shares of Ks. **100000** /-(Kyats **One Hundred Thousand** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**The Objectives for Which The Company Is Established are -**

1. All kinds of agency business, technical consultants, business consultants, management consultants and advisory services.
2. Advertising and its agency business.
3. Business of entertainments and related activities.
4. Business of all kinds of medical services.
5. Business of transportation (except railways and airways)
6. Business of printing and publishing.
7. Business of surveying and inspection.
8. Business of feasibility study on new projects, projects formulation, project appraisal and project valuation.
9. Business of Account writing, Auditing and legal advisory services.
10. Business of servicing, maintenance of repairing of all kinds of vehicles and machines.
11. Business of installation, maintenance and renovation of electrical and electronic goods.
12. Trading of Agricultural and farm produces.
13. Trading of Forest products and value-added wood-based products.
14. Trading of Animal by-products and Animal feed.
15. Trading of Marine products.
16. Trading of Fertilizer and insecticides.
17. Trading of Chemicals and dyes.
18. Trading of Factory utencils and raw material.
19. Trading of Household goods.
20. Trading of Personal goods.
21. Trading of Construction materials and paints.
22. Trading of Electrical and electronic products.
23. Trading of Vehicles, Machinery and spares.
24. Trading of Tools and implement.
25. Trading of Medicines and medical equipment.
26. Trading of Foodstuff and general merchandise.
27. Trading of Textile and garment.
28. Trading of Paper, stationery and photographic stores.
29. Trading of Office equipment and educational supplies.
30. Growing, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.
31. Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber(excluding-teak) and forest products.
32. Livestock breeding, processing and canning of livestock products.
33. Finishing, preserving, milling, canning and processing of marine products.
34. Producing fertilizers, insecticides and animal feeds.
35. Manufacturing of personal goods.
36. Manufacturing of household goods.
37. Manufacturing of vehicles, machineries and spares.
38. Manufacturing of arts and crafts, lacquerwares and furniture.
39. Manufacturing of construction materials and paints.
40. Manufacturing of factory utencils
41. Manufacturing of electrical and electronic goods.
42. Manufacturing of textile, garments and clothing.
43. To carry on the business of explanation, exploitation, production, processing of minerals and marketing of its products with the permission of the Government.
44. Construction
45. Gems
46. Hotel
47. Travel & Tour
48. Micro Finance and Fincials Services

(6) to borrow momey for the benefit of the Company's business from any person, firm, company, bank of financial organization in the manners that the Company shall think fit.

***proviso:-*** Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere,save in so far as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and then only subject to such permission and or approvals as may be perscribed by the Laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.

**The Objective for which the Company is established are-**

1. To carry out the following construction works. either solely on its own or in joint venture with any local or foreign partners, in accordance with the existing Laws,procedures,orders and instructions of the Government of the Republic of the Union of Myanmar.

2. To carry out the pre-engineering works such as ground testing ,drawing,cost estimation and construction ,maintenance,renovation works of suitable sites,for the following construction works, in accordance with the regulation of relevant Ministries. City Development Committees.Division,Distric and Township Development Affair Departments.

1. Housing Buildings
2. Hospitals, Schools, Hostels
3. Offices, Factories, Mills, Workshops.
4. Road, Bridges, Air Fields and Air Port Buildings, Railway Stations, High-way Bus Stations, Seaports, Jetties, Containers Depots.
5. Markets, Godowns, Ware Houses
6. Hotels, Motels, Inns, Guest-House
7. Stations, Towels etc of Communication.
8. Varieties of Stupas, Monuments, Monastries, Meditation Centres, Damayones and religious buildings
9. Dams, Reservoirs
10. Water/Sanitation and Electrical installation works related to construction engineering
11. Other related construction engineering works

Electric Installations
Substain Construction

To carry out local purchase and foreign import of raw materials,finished goods,supporting machineries,equipments,vehicles and spare part, accessories needed for the above construction works.

3 To sell and rent the completed buildings by opening sales centres.

4. To borrow money for the benefit of the Company's business from any person,firm,company. bank and financial organization in the manner that the company shall think fit.

***PROVISO:*** *Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere.save in so for as it may be entitled so as to do in accordance with Laws, Order and Notifications if force from time to time and only subject to such permission and or approval as may be prescribed by the Laws,Orders and Notifications of the Republic of the Union of Myanmar for the being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **U Zaw Hlain Myint**<br>Merchant<br>No.42, Marlarmyaing 3rd Street, Hlaing Township,YANGON | 12/DAGAMA(NAING)019818 | 250 | |
| 2 | **U Zayar Nyunt**<br>Merchant<br>No.43/3, Inyamyaing Street, Bahan Township,YANGON | 12/BATAHTA(NAING)000656 | 250 | |

NayPyiTaw Dated 29 the 03 day of 2013

It is hereby certified that the persons mentioned above put their signatures in my presence.

ဦး[illegible] LL.B

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

Articles Of Association

OF

# MYANMAR LUXURY GROUP COMPANY LIMITED



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 500000000 /-(Kyats **Five Hundred Million** only ) divided into ( 5000 ) shares of Ks 100000 /-(Kyats **One Hundred Thousand** only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representive of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 10 ).

The First Directors shall be:-

( 1 ) U Zaw Hlain Myint ( 2 ) U Zayar Nyunt

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power;-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit: also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being,

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up there on as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged up on all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfillment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and, to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour any Director or other person who may incur or be about to incur any personal liability for the bebefitof the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye- laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts , deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit .

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members ) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors .No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs . The remunerations and allowances such as salaries , travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting .The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-
    *(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place:*
    *(2)* *all sales and purchases of goods by the Company ;*
    *(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Scal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges. losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | U Zaw Hlain Myint<br>Merchant<br>No.42, Marlarmyaing 3rd Street, Hlaing Township, YANGON | 12/DAGAMA(NAING)019818 | 250 | |
| 2 | U Zayar Nyunt<br>Merchant<br>No.43/3, Inyamyaing Street, Bahan Township, YANGON | 12/BATAHTA(NAING)000656 | 250 | |

NayPyiTaw Dated 29 the 03 day of 2013

It is hereby certified that the persons mentioned above put their signatures in my presence.

ဦး၊မြင့် LL.B